အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

MIC-၀၅/၁၀-၄/၁၇

DG 40 18/4

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၆ ရက်

အကြောင်းအရာ။ **Resources Group Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး (ရွှာသာကြီး) ရှိ မြေ ၄၀ဧက တွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Resources Group Logistics Co. Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ ရွှာသာကြီး၊ ရန်ကုန်-မန္တလေးမီးရထားလမ်းဘေး၊ Plot A ရှိ မြေဧရိယာ ၄၀ ဧက တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်ကျေးမှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များတင်ပြလာခြင်းကို ၂၀၁၇ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ကျင်းပသည့်ကော်မရှင်၏ (၅/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးမှ ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ ကော်မရှင် ဥက္ကဋ္ဌ၏ လမ်းညွှန်ချက်နှင့်အညီ ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်အား ၂၀၁၇ ခုနှစ် ဧပြီလ ၅ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးတွင် အတည်ပြုပြီးဖြစ်ပါသဖြင့် သက်ဆိုင်ရာကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် **(စာချော)**တို့တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

၃။ 11.4.17

DLLA

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၂၀ /၂၀၁၇ (မနသ)

၂၀၁၇ ခုနှစ် ဧပြီလ ၁၁ ရက်

၁။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေးမီးရထားလမ်း၊ Plot A ရှိမြေဧရိယာ ၄၀ ဧကတွင် BOT စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၇ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင်ကျင်းပသော ကော်မရှင်၏(၅/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ **"ခွင့်ပြုမိန့်ထုတ်ပေးရန်"** ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ (ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်) အား BOTစနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်း အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၃၈ /၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ်သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါလုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်

နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခွင့်မိခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများတင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင်မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် ၎င်းအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် BOT စာချုပ်နှင့် မြေငှားစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး နှစ် ၅၀ နှင့် ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်သက်တမ်း တစ်ကြိမ်လျှင် ၁၀ နှစ် နှင့် သက် တမ်း နှစ်ကြိမ် တိုးမြှင့်နိုင်သည်။ ထိုသို့စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ မြေအသုံးချမှုပရီမီယံကြေးအဖြစ် စုစုပေါင်း အမေရိကန်ဒေါ်လာ ၁,၀၄၉,၉၀၆.၈၀ အား အောက်ပါအတိုင်း (၃) ကြိမ်ခွဲ၍ ပေးသွင်းရမည်-

(က) ပထမအကြိမ် ၃၀ % ကို စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၃၀)အတွင်း

(ခ) ဒုတိယအကြိမ် ၄၀ % ကို ကုန်းတွင်းဆိပ်ကမ်းနေရာအား လွှဲပြောင်းပြီးနောက် ရက်ပေါင်း ၃၀ အတွင်း

(ဂ) တတိယအကြိမ် ၃၀ % ကို ကုန်းတွင်းဆိပ်ကမ်းနေရာအား လွှဲပြောင်းပြီး (၂) နှစ်ပြည့်သည့်နေ့မှ ရက်ပေါင်း ၃၀ အတွင်း

၉။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်) သည် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား သို့ မြေငှားရမ်းခအဖြစ် တစ်နှစ် ၁ ဧကလျှင် အမေရိကန်ဒေါ်လာ ၅၅၀၀နှုန်းဖြင့် စုစုပေါင်းမြေဧရိယာ ၄၀ ဧက အတွက် အမေရိကန်ဒေါ်လာ ၂၂၀,၀၀၀(အမေရိကန်ဒေါ်လာ နှစ်သိန်း နှစ်သောင်းတိတိ)ကို နှစ်စဉ် ပေးချေရပါမည်။

၁၀။ မြေငှားရမ်းခကို ၅ နှစ်လျှင် တစ်ကြိမ် ပြန်လည်ပြင်ဆင် သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို သင့်တော်မျှတသည့် ဈေးကွက်သတ်မှတ်ချက်ပေါ်မူတည်၍ စာချုပ်ဝင်များအကြား ညှိနှိုင်းသဘောတူညီချက် ရယူပြီး နှစ်စဉ်ငှားရမ်းခ၏ ၁၅ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် တည်ဆောက်ရေးကာလကို ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး ၄ နှစ်အတွင်း တည်ဆောက်ရမည်။

၁၂။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် တည်ဆောက်ရေးကာလ ၄ နှစ် အတွင်းရရှိသော ဝင်ငွေအပေါ် ထိုက်သင့် သည့်ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင်ရမည်။

၁၃။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းအတွက် ကျပ်ငွေ ၇.၅ ဘီလီယံကို KBZ Bank ထံမှ အတိုးနှုန်း ၁၃ % ဖြင့် ချေးငွေရယူဆောင်ရွက်မည်ဟု တင်ပြထားရာ ချေးငွေရယူခြင်းကိစ္စသည် ငွေချေးငှားသူ KBZ Bank နှင့် ငွေချေးယူသူ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)တို့၏ တာဝန်သာဖြစ်စေရမည်။

၁၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေးကုမ္ပဏီလီမိတက်)တို့ ချုပ်ဆိုမည့် BOT စာချုပ်နှင့် မြေငှားရမ်းခြင်း စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းစာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၆။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်း နှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊သက်ဆိုင်ရာဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဥ်း၊ စည်းကမ်း များနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၇။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင်အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၈။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဥ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၉။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ရေထု၊မြေထုညစ်ညမ်းမှုမီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်း ရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်း ဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး(တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၂။ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စုထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ပြည်ပမှ တင်သွင်းသည့်ပစ္စည်းများကိုတစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့်စီမံခန့်ခွဲကြောင်း၊ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊မရက-၄ /မ- ၁၅၆၈ /၂၀၁၇( ၃၄၅-င)

ရက်စွဲ ၊၂၀၁၇ ခုနှစ် ဧပြီလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်ဓါတ်အားပို့လွှတ်ရေးနှင့်ကွပ်ကဲရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Resources Group Logistics Company Limited (အရင်းအမြစ်အုပ်စု ထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)

PAT ၏ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/ နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁။ | Resources Group Logistics Co., Ltd. | BOT စနစ်ဖြင့် ရန်ကုန် တိုင်းဒေသကြီး(ရွာသာကြီး) နှင့် မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းများ | (၄၈/၂၀၁၆) ၁၆-၁၂-၂၀၁၆ | - အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့နှင့် စီးပွားရေးရာကော်မတီတို့မှ မြေအသုံးချခွင့်နှင့်လုပ်ငန်းလုပ်ပိုင်ခွင့်ပြုထားသော အထောက်အထားမိတ္တူများကို တင်ပြပေးရန်။ | တင်ပြပြီး | က |
| | | | | -မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင် ပြုလုပ်မည့် မြေနေရာ၌ မြေဧရိယာ သတ်မှတ်ချက်များအား ဖော်ပြပေးရန်။ | တင်ပြပြီး | ခ |

Resources Group Logistics Co., Ltd. မှ BOT စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး(ရွာသာကြီး) နှင့် မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင် ကုန်းတွင်းဆိပ်ကမ်းဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်းအတွက် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂၈-၁၂-၂၀၁၆ | ၁၇-၁-၂၀၁၇ | |
| | (ခ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂၈-၁၂-၂၀၁၆ | | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၇-၁၂-၂၀၁၆ | ၁၂-၁-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၈/၂၀၁၆) သို့ တင်ပြခြင်း | ၁၆-၁၂-၂၀၁၆ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၈/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၃-၁-၂၀၁၇ | | |
| ၅ | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ သဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်တင်ပြလာခြင်း | - | ၁၃-၁-၂၀၁၇ | |
| ၆ | အဆိုပြုချက် (၁၀)စုံပေးပို့ခြင်း | - | ၃-၃-၂၀၁၇ | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့်အကြိမ် နှင့်နေ့ရက် | | ၅/၂၀၁၇ | |
| | **စုစုပေါင်းကြာမြင့်ရက်** | | **၇၃ ရက်** | |

ကုမ္ပဏီအမည် - Resources Group Logistics Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်)

လုပ်ငန်းအမျိုးအစား - BOT စနစ်ဖြင့် မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှု လုပ်ငန်း

တည်နေရာ - မန္တလေးတိုင်းဒေသကြီး၊ အမရပူရ မြို့နယ်၊ မြစ်ငယ်ရပ်ကွက်၊ ရန်ကုန်-မန္တလေး မီးရထားလမ်းနှင့်စစ်ကိုင်း -မြစ်ငယ်လမ်း၊ Plot A1 ရှိ မြေဧရိယာ ၁၈.၄၇ ဧက နှင့် Plot A2 ရှိ မြေဧရိယာ ၁၃.၉၅၆ ဧက စုစုပေါင်း ၃၂.၄၂၆ ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၃၃,၄၁၇.၉၃၅ သန်း (US$ ၃.၉၉၆ သန်း အပါအဝင်)

လုပ်ငန်းသက်တမ်း - ၅၀ နှစ်

အရင်းကြေကာလ - ၁၁ နှစ် နှင့် ၁ လ

IRR - ၁၆ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost<br>(ကျပ် သန်း) | Benefit<br>(ကျပ် သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀<br>(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆ |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၈၃.၂၁၆ | - |
| ၅ | ဝင်ငွေခွန် | ၁,၄၄၄.၀၃၀ | ၅,၀၅၉.၆၁ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၂၄.၂၃၄ |
| ၇ | CSR ( ၁ % ) | | ၁၈၉.၅၅၄ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၂၀ ဦး |
| | | | ပြည်တွင်းလုပ်သား (၁၂၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ၁,၈၃၀.၂၄၆ | ၅.၂၇၄.၅၅၈ |
| | Cost : Benefit | ၁ : ၃ | |

ကုမ္ပဏီအမည် - Resources Group Logistics Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်)

လုပ်ငန်းအမျိုးအစား - BOT စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှု လုပ်ငန်း

တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေးမီးရထားလမ်း၊ Plot A ရှိ မြေဧရိယာ ၄၀ ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၃၂,၇၅၇.၂၉၄ သန်း (US$ ၅.၅၄၉ သန်း အပါအဝင်)

လုပ်ငန်းသက်တမ်း - ၅၀ နှစ်

အရင်းကြေကာလ - ၈ နှစ် နှင့် ၄ လ

IRR - ၂၀ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ် သန်း) | Benefit (ကျပ် သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆ |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၅၃၂.၁၅ | - |
| ၅ | ဝင်ငွေခွန် | ၁,၆၁၆.၃၄ | ၆,၂၈၀.၄၈ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁၈.၀၀ |
| ၇ | CSR ( ၁ % ) | | ၂၂၈.၈၈ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၂၆ ဦး |
| | | | ပြည်တွင်းလုပ်သား (၁၂၆) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ၂,၁၅၁.၄၉ | ၆,၅၂၉.၅၂ |
| | Cost : Benefit | ၁ : ၃ | |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက- ၄/မ-၁၅၆၅/၂၀၁၇( ၂၅၉ )
ရက်စွဲ ၂၀၁၇ ခုနှစ် မတ်လ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Resources Group Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) ရှိ မြေ ၄၀ဧကနှင့် မန္တလေးတိုင်းဒေသကြီး(မြစ်ငယ်)ရှိ မြေ ၃၂.၄၂၆ဧကတွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များတင်ပြလာခြင်းကိစ္စ**

၁။ Resources Group Logistics Co. Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေးမီးရထားလမ်းဘေး၊ Plot A ရှိ မြေဧရိယာ ၄၀ ဧက နှင့် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ မြစ်ငယ်ရပ်ကွက်၊ ရန်ကုန်-မန္တလေး မီးရထားလမ်းနှင့် စစ်ကိုင်း-မြစ်ငယ် လမ်းကြား၊Plot A1 ရှိမြေဧရိယာ ၁၈.၄၇ ဧကနှင့် Plot A2 ရှိ မြေဧရိယာ ၁၃.၉၅၆ ဧက တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်ကျေးမှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များတင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ ၄၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းများနှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုနှင့်ဆိုင်သော အဓိကအချက်များအား **ပူးတွဲ** ဖြင့် တင်ပြထားပါသည်။

၃။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) ၌ လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင်လည်းကောင်း ကုန်းတွင်းဆိပ်စီမံကိန်း (၂)ခု အကောင်အထည်ဖော် ဆောင်ရွက်မည့် အစီအစဉ်အား ခွင့်ပြုပေးနိုင်ရန်နှင့် ဦးစွာဖွဲ့စည်းလိုရန် လိုအပ်သည့် "စီမံကိန်းဖြစ်မြောက်ရေးဦးစီးကော်မတီ" နှင့် " တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီ" များ ဖွဲ့စည်းခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ စီးပွားရေးရာကော်မတီသို့ အမှုတွဲလွှဲပြောင်းပေးပို့ခဲ့ကြောင်း၊ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၁၄) က " နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးပါက ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြဆောင်ရွက်ရန်" ဆုံးဖြတ်ခဲ့ပြီး ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှလည်း ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြရန် အကြောင်းကြားခဲ့ကြောင်း၊ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၃၁ ရက်နေ့တွင် ကျင်းပသည့် ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၅/၂၀၁၄) က ခွင့်ပြုခဲ့သဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် မြန်မာ့မီးရထားသို့ အကြောင်းကြားခဲ့ကြောင်း တင်ပြထားပါသည်။

၄။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်နေ့တွင် ကျင်းပသော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်အပိုဒ် ၂၄ အရကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-ခ)**

(၁) နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ-မရှိနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် မြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိပါကြောင်း။

(၂) ဆောင်ရွက်မည့်လုပ်ငန်းတွင် အလုပ်သမားများစွာ လိုအပ်မည်ဖြစ်၍ ဒေသခံများအား ဦးစားပေးပြီး အလုပ်ခန့်ထားမည်ဆိုပါက အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသခံများအား ဦးစားပေးပြီးခန့်ထားမည်ဆိုပါက အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်မည် ဖြစ်ပါကြောင်း။

(၃) လုပ်ငန်းဆောင်ရွက်မည့် မြစ်ငယ်ရပ်ကွက်အတွင်းရှိ ရပ်မိ/ရပ်ဖများနှင့် တွေ့ဆုံ၍ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့အရ လက်ခံနိုင်ခြင်း ရှိ-မရှိ သဘောထားမေးမြန်းခဲ့ရာ လူမှုရေး၊ စီးပွားရေးအရ လက်ခံနိုင်ပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိအောင်ဆောင်ရွက်မည်ဆိုပါကလက်ခံနိုင်ခြင်းရှိကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် မြန်မာ့မီးရထားပိုင်မြေနေရာအတွင်းရှိပြီး လုပ်ငန်းပမာဏနှင့် ကိုက်ညီသော ဧရိယာအကျယ်အဝန်းရှိသည့်အတွက် လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဖြစ်ပါကြောင်း။

(၅) အဆိုပါလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ကျင်းပသော မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၃/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အပိုဒ် (၂၃)အရ ကန့်ကွက်ရန် မရှိပါကြောင်း။

(ဂ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏(၁%)အား အသုံးပြုခြင်းတို့

အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင် ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး မထိခိုက်စေရေး(သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)ကို စီမံကိန်းတွင် ပါရှိသော ဒေသ (၂)ခု (ရန်ကုန်တိုင်းဒေသကြီး၊ ရှာသာကြီးနှင့် မန္တလေးတိုင်းဒေသကြီး၊ မြစ်ငယ်) တို့အတွက် ခွဲခြားဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း ပါအချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့် ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)လည်း စီမံကိန်း တွင်ပါရှိသောဒေသ ၂ ခု (ရန်ကုန်တိုင်းဒေသကြီး၊ ရှာသာကြီးနှင့် မန္တလေးတိုင်းဒေသကြီး၊မြစ်ငယ်)အတွက် ခွဲခြားဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့်ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေ၊ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု)လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)အား Third party ဖြစ်သည့် National Engineering & Planning Services Co., Ltd. မှ စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၇ ရက်နေ့ ရက်စွဲဖြင့် ကုမ္ပဏီမှတင်ပြထားပါသည်။)**

၅။ အဆိုပြုလုပ်ငန်းများသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်း

မှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၆။ Resources Group Logistics Co., Ltd. မှ အသားတင်အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်နှင့် ဝန်ထမ်းများအတွက် နိုင်ငံတော်မှ ချမှတ်သည့် ဝင်ငွေခွန် ဥပဒေနှင့်အညီ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်များကိုကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၈။ (က) ဌာနနှင့်ကုမ္ပဏီတို့ချုပ်ဆိုမည့် BOTစာချုပ်များနှင့် မြေငှား စာချုပ်များကို စိစစ်ပေးပါရန် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ သဘောထားတောင်းခံသဖြင့် ကော်မရှင်မှ (၁၅-၈-၂၀၁၆) ရက်နေ့တွင် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

(ခ) ဌာနနှင့်ကုမ္ပဏီတို့ချုပ်ဆိုမည့် BOT စာချုပ်များနှင့် မြေငှားစာချုပ်များကို အဆိုပြုချက် မတင်ပြမီ ကြိုတင်လက်မှတ်ရေးထိုးခွင့် တင်ပြလာခြင်းကို ကော်မရှင်၏ ၂၂/၂၀၁၆ (၁-၁၂-၂၀၁၆) အစည်းအဝေးမှ ကြိုတင်လက်မှတ်ရေးထိုးခြင်း မပြုရန်ဆုံးဖြတ်ခဲ့ပြီး ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနသို့ (၂-၁၂-၂၀၁၆) ရက်နေ့တွင် အကြောင်းကြားခဲ့ပြီး ဖြစ်ပါသည်။

(ဂ) ယခုစီမံကိန်းနှင့်စပ်လျဉ်း၍ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ ၁၉-၇-၂၀၁၅ ရက် နေ့၌ ကြေးမုံသတင်းစာတွင် တင်ဒါ အသိပေးကြေငြာချက်ကို လည်းကောင်း၊ (၁၀-၁-၂၀၁၆) ရက်နေ့တွင် Letter of Award ကိုလည်းကောင်း ကုမ္ပဏီသို့ ပေးအပ်ခဲ့သည်ကို တင်ပြထားပါသည်။

(ဃ) ယခု ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်းများသည် UNESCAP ၏ ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူစာချုပ်အရ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှ အစပျိုးဆောင်ရွက်မည့် ကုန်းတွင်းဆိပ် စီမံကိန်း (၂)ခုဖြစ်ကြောင်း တင်ပြထားပါသည်။

(င) ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ပြုလုပ်မည့် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်းအတွက် Myanmar Motor Corporation Public Co., Ltd. မှ ကော်မရှင်သို့ ၎င်းတို့ပိုင်ဆိုင်သည့်မြေဖြစ်ကြောင်း တိုင်ကြားလာသည့်အတွက် ကောမရှင်မှ မြန်မာ့မီးရထားသို့ ရှင်းလင်းတင်ပြရန် အကြောင်းကြားခဲ့ရာ မြန်မာ့မီးရထားမှ ယင်းကုမ္ပဏီ၏ ကန့်ကွက်မှုအား ကော်မရှင်အနေဖြင့် ထည့်သွင်းစဉ်းစားရန် မသင့်ကြောင်းနှင့် စီမံကိန်းလုပ်ငန်းများအကောင်အထည်ဖော်သည့်ကာလ၌ ကိုယ်ထိလက်ရောက်ကန့်ကွက်လာပါက ပို့ဆောင်

ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှ တရားစွဲဆိုဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ **နောက်ဆက်တွဲ -(ဃ)**

(စ) ရင်နှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ သို့ဖြစ်ပါ၍ Resources Group Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) ရှိ မြေဧရိယာ ၄၀ဧကနှင့် မန္တလေးတိုင်းဒေသကြီး(မြစ်ငယ်)ရှိ မြေဧရိယာ ၃၂.၄၂၆ဧကတို့ တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီး ဌာနမှတစ်ဆင့် အဆိုပြုချက်များတင်ပြလာခြင်းအပေါ် လုပ်ငန်းတည်နေရာအလိုက်ခွင့်ပြုမိန့်များ ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပူးတွဲ

**Resources Group Logistics Co. ,Ltd. မှ BOT စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး(ရွာသာကြီး)ရှိ မြေ ၄၀ ဧကနှင့် မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)ရှိ မြေ ၃၂.၄၂၆တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်း(၂)ခု၏ အဆိုပြုချက်များတင်ပြခြင်းနှင့် စပ်လျဉ်းသည့်အဓိကအချက်များ**

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Resources Group Logistics Co. ,Ltd.<br>ဦးမောင်ကျေး (မန်နေးဂျင်းဒါရိုက်တာ) | - Resources Group Logistics Co. ,Ltd.<br>ဦးမောင်ကျေး (မန်နေးဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| | လုပ်ငန်းအမျိုးအစား | - BOTစနစ်ဖြင့်ရန်ကုန်တိုင်းဒေသကြီး(ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်း | - BOTစနစ်ဖြင့် မန္တလေးတိုင်းဒေကြီး(မြစ်ငယ်)တွင် ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေးမီးရထားလမ်းဘေးPlot A ရှိ မြေဧရိယာ ၄၀ ဧက | - မန္တလေးတိုင်းဒေသကြီး၊ အမရပူရ မြို့နယ်၊ မြစ်ငယ်ရပ်ကွက်၊ ရန်ကုန်-မန္တလေးမီးရထားလမ်းနှင့်စစ်ကိုင်း-မြစ်ငယ်လမ်းကြား၊ Plot A1 ရှိ မြေဧရိယာ ၁၈.၄၇ ဧက နှင့် Plot A2 ရှိ မြေဧရိယာ ၁၃.၉၅၆ ဧက စုစုပေါင်း ၃၂.၄၂၆ ဧက |
| | မြေပိုင်ရှင် | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) ရှိ မြေ ၄၀ ဧကအတွက် ၁နှစ် ၁ ဧကလျှင် US$ ၅၅၀၀ နှုန်းဖြင့် US$ ၂၂၀,၀၀၀ | - မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်) ရှိ မြေ ၃၂.၄၂၆ ဧက အတွက် ၁ နှစ် ၁ ဧကလျှင် US$ ၅၅၀၀ နှုန်းဖြင့် US$ ၁၇၈,၃၄၃ ပေးချေမည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၄ နှစ် (ပထမအဆင့် ၂ နှစ်၊ ဒုတိယအဆင့် ၂ နှစ်) | - ၄ နှစ် (ပထမအဆင့် ၂ နှစ်၊ ဒုတိယအဆင့် ၂ နှစ်) |
| | ပဏာမစူးစမ်းလေ့လာမှုကာလ | - ၁ နှစ် | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | **ကျပ် ၃၂,၇၅၇.၂၉၄ သန်း (US$ ၅.၅၄၉ သန်း အပါအဝင်)** | **ကျပ် ၃၃,၄၁၇.၉၃၅ သန်း (US$ ၃.၉၉၆ သန်း အပါအဝင်)** |
| | ငွေပမာဏ | ကျပ် ၆၀၁.၂၀၆ သန်း | ကျပ် ၄၈၇.၃၄၄ သန်း |
| | စက်ပစ္စည်းကိရိယာများတန်ဖိုး ပမာဏ | ကျပ် ၇,၃၀၃.၂၁၀ သန်း (US$ ၅.၄၀၉ သန်း) | ကျပ် ၅,၁၈၅.၃၅၀ သန်း (US$ ၃.၈၄၁ သန်း) |
| | အဆောက်အအုံများ/မြေ | ကျပ် ၁,၄၁၇.၃၇၄ သန်း | ကျပ် ၁,၁၄၈.၉၉၄ သန်း |
| | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၂၃,၄၃၅.၅၀၄ သန်း (US$ ၀.၁၄၀ သန်း အပါအဝင်) | ကျပ် ၂၆,၅၉၆.၂၄၇ သန်း (US$ ၀.၁၅၅ သန်း အပါအဝင်) |

<table>
<tr><td>၆။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ</td><td>၁၂၉ ဦး<br>- ၁၂၆ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပြီးဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၁၅၀၀ ဖြစ်ပါသည်။)</td><td>၁၂၃ ဦး<br>- ၁၂၁ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ၂ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၁၅၀၀ဖြစ်ပါသည်။)</td></tr>
<tr><td>၇။</td><td>ဝင်ငွေရရှိမှု (၆ နှစ်မြောက်)</td><td>ရန်ကုန်တိုင်း(ရွာသာကြီး)
<table>
<tr><th>စဉ်</th><th>အကြောင်းအရာ</th><th>ရေတွက်မှုပုံစံ</th><th>အရေအတွက်</th><th>Price/ sqm/ Unit</th></tr>
<tr><td>၁</td><td>Containerized Cargo & General Cargo Transportation</td><td>Ton</td><td>၂၆၃၂၄၆</td><td>၂၄,၂၈၆.၅၀</td></tr>
<tr><td>၂</td><td>Cargo Transport Rate, Terminal</td><td>Ton</td><td>၁၇၆၇၃၆</td><td>၂,၆၄၀.၀၀</td></tr>
<tr><td>၃</td><td>Warehousing and Cargo Handling</td><td>Sqm</td><td>၄၅၀၀</td><td>၁၃၂.၀၀</td></tr>
<tr><td>၄</td><td>Bonded Warehousing</td><td>-</td><td>၂</td><td>၅၅.၀၀</td></tr>
</table></td><td>မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)
<table>
<tr><th>စဉ်</th><th>အကြောင်းအရာ</th><th>ရေတွက်မှုပုံစံ</th><th>အရေအတွက်</th><th>Price/ sqm/ Unit</th></tr>
<tr><td>၁</td><td>Containerized Cargo & General Cargo Transportation</td><td>Ton</td><td>၂၁၃၃၉၀</td><td>၂၄,၂၈၆.၅၀</td></tr>
<tr><td>၂</td><td>Cargo Transport Rate, Terminal</td><td>Ton</td><td>၁၄၃၂၆၄</td><td>၂,၆၄၀.၀၀</td></tr>
<tr><td>၃</td><td>Warehousing and Cargo Handling</td><td>Sqm</td><td>၃၅၀၀</td><td>၁၃၂.၀၀</td></tr>
<tr><td>၄</td><td>Bonded Warehousing</td><td>-</td><td>၂</td><td>၅၅.၀၀</td></tr>
</table></td></tr>
<tr><td>၈။</td><td>ဝင်ငွေ (၆ နှစ်မြောက်)<br>အသုံးစရိတ် (၆ နှစ်မြောက်)<br>အသားတင်အမြတ် (၆ နှစ်မြောက်)<br><br>အရင်းကြေကာလ</td><td>- ကျပ် ၇,၅၆၃.၉၁ သန်း<br>- ကျပ် ၅,၂၃၇.၀၃ သန်း<br>- ကျပ် ၂,၃၂၆.၈၈ သန်း<br><br>- ၈ နှစ် နှင့် ၄ လ</td><td>- ကျပ် ၆,၁၃၂.၇၂ သန်း<br>- ကျပ် ၄,၂၆၅.၈၆ သန်း<br>- ကျပ် ၁,၈၆၆.၈၆ သန်း<br><br>- ၁၁ နှစ် နှင့် ၁ လ</td></tr>
<tr><td>၉။</td><td>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း</td><td>- ၂၁ %</td><td>- ၁၆ %</td></tr>
</table>

| | | | |
|---|---|---|---|
| | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆ နှစ်မြောက်) ဝင်ငွေခွန် | - ကျပ် ၇၇၅.၆၃ သန်း | - ကျပ် ၆၂၂.၂၉ သန်း |
| ၁၀။ | CSR | - နှစ်စဉ်အသားတင်အမြတ်၏ ၁ % သုံးစွဲမည်ဖြစ်ပါသည်။ | - နှစ်စဉ်အသားတင်အမြတ်၏ ၁ % သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - 1 MVA | - 1 MVA |
| ၁၂။ | ပြည်ပမှအခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည့် ပစ္စည်းများ | - ပြည်ပမှ ၅.၅၄၉ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးယဥ်ယန္တရားများနှင့် ပရိဘောဂများအား အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ | - ပြည်ပမှ ၃.၉၉၆ သန်းတန်ဖိုးရှိ လုပ်ငန်းသုံးယာဥ်ယန္တရားများနှင့် ပရိဘောဂများအား အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | BOT စာချုပ် နှင့် မြေငှားစာချုပ်များပါ အဓိကအချက်များ | - မြေအသုံးချမှုပရီမီယံကြေးအဖြစ် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) တွင် ပြုလုပ်မည့် မြေ ၄၀ ဧက အတွက် USD ၁,၀၄၉,၉၀၇ ကို အောက်ပါအတိုင်း ပေးချေမည် ဖြစ်ပါသည်- **(BOT စာချုပ် အပိုဒ် ၆.၃)**<br>- (က) ပထမအရစ်အဖြစ် ပရီမီယံကြေး၏ ၃၀ % ကို စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း<br>- (ခ) ဒုတိယအရစ်အဖြစ် ပရီမီယံကြေး၏ ၄၀ % ကို ကုမ္ပဏီသို့ လွှဲပြောင်းပြီး ရက်ပေါင်း ၃၀ အတွင်း<br>- (ဂ) တတိယအရစ်အဖြစ် ပရီမီယံကြေး၏ ၄၀ % ကို ကုမ္ပဏီသို့ လွှဲပြောင်းပြီး ၂ နှစ်အတွင်း<br>- မြေငှားရမ်းခအဖြစ်ရန်ကုန်တိုင်းဒေသကြီး(ရွာသာကြီး) ရှိ မြေ ၄၀ ဧကအတွက် ၁နှစ် ၁ ဧကလျှင် US$ ၅၅၀၀ နှုန်းဖြင့် US$ ၂၂၀,၀၀၀ ပေးချေရပါမည်။ **(BOT စာချုပ် အပိုဒ် ၆.၄)** | - မြေအသုံးချမှုပရီမီယံကြေးအဖြစ်မန္တလေးတိုင်းဒေသကြီး(မြစ်ငယ်) တွင် ပြုလုပ်မည့် မြေ ၃၂.၄၂၆ ဧက အတွက် USD ၈၅၁,၁၀၆.၉၅ ကို အောက်ပါအတိုင်း ပေးချေမည် ဖြစ်ပါသည်- **(BOT စာချုပ် အပိုဒ် ၆.၂)**<br>- (က) ပထမအရစ်အဖြစ် ပရီမီယံကြေး၏ ၃၀ % ကို စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း<br>- (ခ) ဒုတိယအရစ်အဖြစ် ပရီမီယံကြေး၏ ၄၀ % ကို ကုမ္ပဏီသို့ လွှဲပြောင်းပြီး ရက်ပေါင်း ၃၀ အတွင်း<br>- (ဂ) တတိယအရစ်အဖြစ် ပရီမီယံကြေး၏ ၄၀ % ကို ကုမ္ပဏီသို့ လွှဲပြောင်းပြီး ၂ နှစ်အတွင်း<br>- မြေငှားရမ်းခအဖြစ် မန္တလေးတိုင်းဒေသကြီး(မြစ်ငယ်) ရှိ မြေ ၃၂.၄၂၆ ဧကအတွက် ၁နှစ် ၁ ဧကလျှင် US$ ၅၅၀၀ နှုန်း ဖြင့် US$ ၁၇၈,၃၄၃ ပေးချေရပါမည်။**(BOT စာချုပ် အပိုဒ် ၆.၄)** |

| | | | |
|---|---|---|---|
| | | - ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန် နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ကာလဒေသ ပေါက်ဈေးနှင့် နှစ်ဖက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၅ % ထက် မပို သော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင်သတ်မှတ် သွားမည် **ဖြစ်ပါသည်။ (BOT စာချုပ် အပိုဒ် ၆.၆)**<br>- ငွေပေးချေမှုအနေဖြင့် ကုမ္ပဏီမှ မြေအသုံးချမှု ပရီမီယံကြေး၊ နှစ်စဉ် မြေငှားရမ်းခ၊ Distribution Complex Fee၊ Revenue Fee၊ Consultant's Fee များပေးချေရပါမည်။ **(BOT စာချုပ် အပိုဒ် ၆.၁)** | - ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန် နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ကာလဒေသ ပေါက်ဈေးနှင့် နှစ်ဖက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၅ % ထက် မပို သော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင်သတ်မှတ် သွားမည် ဖြစ်ပါသည်။ **(BOT စာချုပ် အပိုဒ် ၆.၆)**<br>- ငွေပေးချေမှုအနေဖြင့် ကုမ္ပဏီမှ မြေအသုံးချမှု ပရီမီယံကြေး၊ Takeover Fee၊ နှစ်စဉ်မြေငှားရမ်းခ၊ Distribution Complex Fee၊ Revenue Fee၊ Consultant's Fee များ ပေးချေရပါမည်။ **(BOT စာချုပ်အပိုဒ် ၆.၁)** |
| ၁၄။ | ငွေကြေးအထောက်အထား | - ဘဏ်အထောက်အထားအဖြစ် Resources Group Logistics Co., Ltd.၊ ဦးမြင့်မော်၊ ဦးကျော်သာဦး၊ ဦးညီညီထွန်း အမည်ဖြင့် AYA Bank တွင် ငွေစာရင်းအမှတ် 0071224010000911 ၌ ၂၉-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၃၅၃,၆၅၄,၉၈၅.၆၆ အား လည်းကောင်း၊ Resources Group Logistics Co., Ltd. အမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ငွေစာရင်းအမှတ် IDA-04-04647ဖြင့် (၂၄-၅-၂၀၁၆)ရက်နေ့တွင် US$ ၁,၀၂၇,၅၀၀.၅၂ ဖြင့် လည်းကောင်း ရှိကြောင်းတင်ပြထားပါသည်။<br>- လုပ်ငန်းအတွက်ချေးငွေအဖြစ် KBZ Bank မှ မြန်မာကျပ်ငွေ ၇.၅ ဘီလီယံ ကို ထောက်ပံ့မည်ဖြစ်ကြောင်း(၁၅-၉-၂၀၁၆) ရက်စွဲဖြင့် တင်ပြထားပါသည်။ | |
| ၁၅။ | အခြားတင်ပြချက် | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားသော National Engineering & Planning Services Co. ,Ltd. အား အကြံပေးပညာရှင်အဖွဲ့အဖြစ်ခန့်အပ်ပြီး လုပ်ဆောင်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- ဝန်ထမ်း သက်သာချောင်ချိရေး အစီအစဉ်နှင့် မီးဘေး လုံခြုံရေး အစီအစဉ်အား တင်ပြထားပါသည်။ | |
| ၁၆။ | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနမှ တင်ပြချက် | - ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု အကောင်အထည်ဖော် ဆောင်ရွက်ရန် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် ၁၅/၂၀၁၄ (၃၁-၇-၂၀၁၄)မှ ခွင့်ပြုချက်ရရှိပြီးဖြစ်ကြောင်း။<br>- ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီ၏လုပ်ငန်းစဥ်များကို စိစစ်ခဲ့ပြီးဝန်ကြီးဌာန၏ ဘတ်ဂျက်စိစစ်ရေးကော်မတီ အစည်းအဝေး အမှတ်စဥ် ၇/၂၀၁၅-၂၀၁၆ (၉-၆-၂၀၁၅)မှ ကုန်းတွင်းဆိပ်များအား BOT စနစ်ဖြင့် ဆောင်ရွက်သွားရန် Developer(၂)ဦးကို ရွေးချယ်ရန် ဆုံးဖြတ်ခဲ့ကြောင်း။ | |

| | | |
|---|---|---|
| | | - ၂၃-၁၂-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် စီမံကိန်း ဖြစ် မြောက်ရေးဦးစီးကော်မတီ လုပ်ငန်းညှိနှိုင်း အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်မည့် Developer များအနက် ရန်ကုန်တိုင်း ဒေသ ကြီး (ရွာသာကြီး)ရှိ အကျယ်အဝန်း ၄၀ ဧက ရှိ Plot A၊ မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင် အကျယ်အဝန်း ၁၈.၄၇ ဧက ရှိ Plot A1 နှင့် ၁၃.၉၅၆ ဧက ရှိ Plot A2 ဧရိယာတစ်ခုခြင်းစီ ပါဝင်သော အုပ်စု A နေရာ အား Resources Group Logistic Co., Ltd.ကိုလည်း ကောင်း၊ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) ရှိ အကျယ်အဝန်း (၄၀)ဧကရှိ Plot B နှင့် မန္တလေးတိုင်း ဒေသကြီး (မြစ်ငယ်)ရှိ အကျယ် အဝန်း ၄၂.၆၇၄ ဧကရှိ Plot B1 နှင့် အုပ်စု B နေရာအား Kerry Logistic Network Co., Ltd. ကို လည်းကောင်း တင်ဒါ အောင်မြင်သူများအဖြစ် ရွေးချယ် ပေးခဲ့ကြောင်း။<br><br>- စင်ကာပူအခြေစိုက် Kerry Logistic Network Co., Ltd. နှင့် မြန်မာနိုင်ငံသားပိုင် Resources Group Logistic Co., Ltd. တို့ အား BOTစနစ်ဖြင့် အကျိုးတူပူးပေါင်း ဆောင်ရွက်နိုင်ရေး အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင် ရွက်သွားရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ ၂၀၁၆ခုနှစ် ဇန်န ဝါရီလ ၇ ရက် နေ့ ရက်စွဲပါစာဖြင့် သဘောတူခွင့်ပြုခဲ့ကြောင်း။<br><br>- တင်ဒါအောင်မြင်သော ကုမ္ပဏီ ၂ ခုအတွက် BOT စာချုပ်များ အား VDB Loi Co., Ltd. မှ စာချုပ်မူကြမ်း ရေးသား ပြုစုခဲ့ပြီး ရန်ကုန်မြို့နှင့် နေပြည်တော်တို့၌(၁၂)ကြိမ် ညှိနှိုင်းဆွေးနွေး၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ပြည်ထောင်စု ရှေ့နေ ချုပ်ရုံး၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ စီးပွားရေးနှင့်ကူး သန်း ရောင်းဝယ်ရေးဝန်ကြီးဌာနတို့၏ သဘောထား မှတ်ချက် များနှင့်အညီ စာချုပ်များ အား ပြင်ဆင်ပြီးဖြစ်ကြောင်း။ |

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီ လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၈. ၁၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၅၆၈/၂၀၁၆(၁၁၅၅)

၁။ Resources Group Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေးမီးရထားလမ်း၊ Plot A ရှိ မြေဧရိယာ ၄၀ ဧကတွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဦးမောင်ကျေးမှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၂. ၁. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၄)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Resources Group Logistics Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2017/Cabinet/27,(3)

နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
**မန္တလေးမြို့**

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၀၅၅)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၄ ရက်



ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၂၈ - ၁၂ - ၂၀၁၆ )ရက်စွဲပါ စာအမှတ်၊ မရက- ၄ / မ - ၁၅၆၈ / ၂၀၁၆ ( ၁၁၅၆)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၇ - ၂ - ၂၀၁၇ )ရက်စွဲပါ စာအမှတ်၊ မရက- ၄ / န - ဝ၈၁ / ၂၀၁၇ ( ၁၇၃)

၁။ အမရပူရမြို့နယ်၊ မြစ်ငယ်ရပ်ကွက်၊ ရန်ကုန်- မန္တလေး မီးရထားလမ်းနှင့် စစ်ကိုင်း - မြစ်ငယ်လမ်း၊ Plot B1ရှိ မြေဧရိယာ (၄၂.၆၇၄) ဧကတွင် KM Terminal and Logistics Limited မှ လည်းကောင်း၊ အမရပူရမြို့နယ်၊ မြစ်ငယ်ရပ်ကွက်($A_1+A_2$ )နေရာရှိ မြေဧရိယာ(၃၂.၄၂၆)ဧကတွင် Resources Group Logistics Co.,Ltd မှလည်းကောင်း၊ Logistics Services including operation of Dry Port, rail transportation, distribution center & logistics and logistics related business လုပ်ငန်းများကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် မြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိကြောင်း ၊

(ခ) ဆောင်ရွက်မည့်လုပ်ငန်းတွင် အလုပ်သမားအင်အားများစွာ လိုအပ်မည်ဖြစ်၍ ဒေသခံများအားဦးစားပေးပြီးအလုပ်ခန့်ထားမည်ဆိုပါက အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်မည်ဖြစ်ပါကြောင်း၊

(ဂ) လုပ်ငန်းဆောင်ရွက်မည့် မြစ်ငယ်ရပ်ကွက်အတွင်းရှိ ရပ်မိ / ရပ်ဖများနှင့် တွေ့ဆုံ၍ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့အရ လက်ခံနိုင်ခြင်းရှိ / မရှိ သဘောထားမေးမြန်းခဲ့ရာ လူမှုရေး၊ စီးပွားရေးအရ လက်ခံနိုင်ပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိအောင် ဆောင်ရွက်မည်ဆိုပါက လက်ခံနိုင်ခြင်းရှိပါကြောင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် မြန်မာ့မီးရထားပိုင်မြေနေရာ အတွင်းရှိပြီး လုပ်ငန်းပမာဏနှင့်ကိုက်ညီသော ဧရိယာအကျယ်အဝန်းရှိသည့် အတွက် လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဖြစ်ပါကြောင်းစိစစ်တွေ့ရှိရ ပါသည်။

၃။ သို့ဖြစ်ပါ၍ အမရပူရမြို့နယ် ၊ မြစ်ငယ်ရပ်ကွက် ၊ ရန်ကုန်- မန္တလေး မီးရထားလမ်းနှင့် စစ်ကိုင်း - မြစ်ငယ်လမ်း၊ Plot B1ရှိ မြေဧရိယာ(၄၂.၆၇၄)ဧကနှင့် မြစ်ငယ်ရပ်ကွက်.( $A_1 + A_2$ ) နေရာရှိ မြေဧရိယာ (၃၂.၄၂၆)ဧကတို့၌ Logistics Services including operation of Dry Port, rail transportation, distribution center & logistics and logistics related business လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် ( ၂၃-၂-၂၀၁၇ )ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ်( ၂၃ )အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၄၊၃

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

နောက်ဆက်တွဲ-ဂ

M3-029
13.1.17

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဂဂ၁/ MIC(OSS) /ဂ၁(၁၈၊၁၇ )
ရက် စွဲ ၊၂ဂ၁၇ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **Resources Group Logistics Co., Ltd. မှ ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၁၂-၂ဂ၁၆ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၅၆၈/ ၂ဂ၁၆(၁၁၅၇)

၁။ Resources Group Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေး မီးရထားလမ်း၊ Plot A ရှိ မြေဧရိယာ ၄ဂ ဧက (၁၆၁၈၇၄.၂၅၆၇ စတုရန်းမီတာ) နှင့် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ မြစ်ငယ်ရပ်၊ ရန်ကုန်-မန္တလေးမီးရထားလမ်းနှင့် စစ်ကိုင်း-မြစ်ငယ်လမ်း၊ Plot A1 ရှိ မြေဧရိယာ ၁၈.၄၇ ဧက (၇၄၇၄၅.၄၃၈ စတုရန်းမီတာ)၊ Plot A2 ရှိ မြေဧရိယာ ၁၃.၉၅၆ ဧက (၅၆၄၇၇.၉၂၈ စတုရန်းမီတာ)၊ စုစုပေါင်း မြေဧရိယာ ၃၂.၄၂၆ (၁၃၁,၂၂၃.၃၆၆ စတုရန်းမီတာ) တွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ် (၅ဂ) နှင့် သက်တမ်းတိုး (၁ဂ) နှစ် (၂) ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေး ကာလမှာ ပထမအဆင့် စီမံကိန်း (၂) နှစ်၊ ဒုတိယအဆင့် စီမံကိန်း (၂) နှစ် ဖြစ်ကြောင်း၊

(ခ) ကုန်းတွင်းဆိပ် (ရွာသာကြီး) နှင့်မြစ်ငယ်တို့တွင် လိုအပ်သောအခြေခံအဆောက်အဦ၊ မီးရထားသံလမ်း၊ စက်ပစ္စည်းကိရိယာများ၊ လုံခြုံရေး CCTV System၊ ရေထောက်ပံ့မှုစနစ်နှင့် မီးအားပေးစနစ်များကို တည်ဆောက်သွားမည်ဖြစ်ပြီး ကုန်းတွင်းဆိပ်အတွင်း လမ်းကွန်ကရစ်ခင်းခြင်းကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများလူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေး အစီအမံများ၊ မီးဘေးနှင့်သဘာဝဘေး ကြိုတင်တားဆီးကာကွယ်ရေး စီမံချက်များကိုထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ National Engineering & Planning Services Co., Ltd. ကို ငှားရမ်း၍ IEE (Initial Environmental Examination) နှင့် EMP (Environmental Management Plan) လုပ်ငန်းများ ဆောင်ရွက်လျက်ရှိကြောင်း ဖော်ပြပါရှိ ပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Resources Group Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရှာသာကြီးနှင့် မန္တလေးတိုင်းဒေသကြီး၊ မြစ်ငယ်တို့တွင် တည်ဆောက်မည့် ကုန်းတွင်းဆိပ်ဝန်ဆောင်မှု လုပ်ငန်းအတွက်တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့် များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ ဆူညံသံများနှင့် စွန့်ပစ်စက်မောင်း ဆီ၊ ချောဆီများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) ကုန်တွင်းဆိပ် (Dry Port) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ကွန်တင်နာယာဉ်များမှ ထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊

(ဃ) ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းကြောင့် ယာဉ်ကြောပိတ်ဆို့မှုများ ဖြစ်ပေါ်စေနိုင် ခြင်း၊

(င) ကွန်တိန်နာအတွင်း တင်ဆောင်လာမည့် ကုန်ပစ္စည်းများမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း များကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင် ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ Resources Group Logistics Co., Ltd. မှ ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကို စီမံကိန်းတွင် ပါရှိသော ဒေသ (၂) ခု (ရန်ကုန်တိုင်းဒေသကြီး၊ ရှားသာကြီးနှင့် မန္တလေးတိုင်းဒေသကြီးမြစ်ငယ်) တို့အတွက် ခွဲခြားဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံရေးသားတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကိုလည်း စီမံကိန်းတွင်ပါရှိသော ဒေသ (၂) ခု (ရန်ကုန်တိုင်းဒေသကြီး၊ ရှားသာကြီးနှင့် မန္တလေးတိုင်းဒေသကြီးမြစ်ငယ်) အတွက် ခွဲခြားဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသား

ပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(ကုန်းတွင်းဆိပ်)/၂၀၁၇(၁၃၁ )
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၈/၂၀၁၆) အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီပြုစု၍ ပြန်လည်တင်ပြခြင်း

ရည် ညွှန်း ချက်။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ (၂၀)ရက်စွဲပါ စာအမှတ်၊ ရထ-၂/ရန(ကုန်းတွင်းဆိပ်)/၂၀၁၆(၃၀၁၈)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ(၃)ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၅၆၈/၂၀၁၇(၀၁၈)

၁။ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)ရှိ အကျယ်အဝန်း (၄၀)ဧကရှိ Plot A၊ မန္တလေးတိုင်းဒေသကြီး(မြစ်ငယ်)ရှိ အကျယ်အဝန်း (၁၈.၄၇)ဧကရှိ Plot A1 နှင့် အကျယ်အဝန်း (၁၃.၉၅၆)ဧကရှိ Plot A2 ဧရိယာ တစ်ခုခြင်းစီပါဝင်သော အုပ်စု (A) နေရာအတွက် Resources Group Logistic Co.,Ltd မှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြင်ဆင်၍ ပြန်လည်တင်ပြခဲ့မှုအပေါ် ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ (၁၆)ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၈/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးတွင် အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပြီး ဆုံးဖြတ်ချက်နှင့်အညီ ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့နှင့် စီးပွားရေးရာကော်မတီတို့မှ မြေအသုံးချခွင့်နှင့် လုပ်ငန်းလုပ်ပိုင်ခွင့်ပြုထားသော အထောက်အထားမိတ္တူများကို တင်ပြပေးပါရန်။

(ခ) မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တွင်ပြုလုပ်မည့် မြေနေရာ၌ မြေဧရိယာ သတ်မှတ်ချက်များအား ဖော်ပြပေးရန်။

၂။ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်အပိုဒ် (က)နှင့် ပတ်သက်၍ ဆောင်ရွက်ခဲ့သည့် အထောက်အထားမိတ္တူများကို အောက်ပါအတိုင်း ပြုစုတင်ပြအပ်ပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီးတွင် ရွာသာကြီး၌ လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီးတွင် မြစ်ငယ်၌လည်းကောင်း ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအစဉ်အား ခွင့်ပြုပေးနိုင်ပါရန်နှင့် လုပ်ငန်းစဉ်အရ ဦးစွာဖွဲ့စည်းရန်လိုအပ်သည့်

"စီမံကိန်းဖြစ်မြောက်ရေးဦးစီးကော်မတီ"နှင့် "တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေး ကော်မတီ"များ ဖွဲ့စည်းခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီသို့ အမှုတွဲလွှဲပြောင်းပေးပို့ခဲ့ပါသည်။ (နောက်ဆက်တွဲ "က-၁" ဖြင့် ဖော်ပြအပ်ပါသည်။)

(ခ) ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၁၄)က "နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးပါက ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်" ဆုံးဖြတ်ခဲ့ပြီး ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှလည်း ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြရန် အကြောင်းကြားခဲ့ပါသည်။ (နောက်ဆက်တွဲ "က-၂"၊ "က-၃" တို့ဖြင့် ဖော်ပြအပ်ပါသည်။)

(ဂ) ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၃၁)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့၊ အစည်းအဝေး အမှတ်စဉ်(၁၅/၂၀၁၄)က သဘောတူခွင့်ပြုခဲ့သဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် မြန်မာ့မီးရထားသို့ အကြောင်းကြားခဲ့ပါသည်။(နောက်ဆက်တွဲ"က-၄"ဖြင့် ဖော်ပြအပ်ပါသည်။)

၃။ အစည်းအဝေးဆုံးဖြတ်ချက်အပိုဒ်(ခ)နှင့် ပတ်သက်၍ အောက်ပါအတိုင်း ပြုစုတင်ပြအပ်ပါသည်-

(က) မန္တလေးတိုင်းဒေသကြီး၊ မြစ်ငယ်တွင် ရင်းနှီးမြှုပ်နှံမှုမြေ(၂)နေရာ (A1+A2)မြေနေရာ ဧက (၃၂.၄၂၆)ဧကနှင့် (B)မြေနေရာဧက (၄၂.၆၇၄)ဧကတို့ဖြစ်ပါသည်။

(ခ) မြေဧရိယာသတ်မှတ်ချက်မြေပုံကို နောက်ဆက်တွဲ(ခ)ဖြင့် ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)နှင့် မန္တလေးတိုင်းဒေသကြီး (မြစ်ငယ်)တို့တွင် ကုန်းတွင်းဆိပ် (၂)ခု အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ (၁၆) ရက်နေ့တွင်ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၈/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်များအပေါ် အထက်အပိုဒ်(၂) (၃)ပါအတိုင်း ပြုစုပြီး ပြန်လည်တင်ပြအပ်ပါသည်။

ပူးတွဲ - ( )ရွက်

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(မင်းချစ်ဦး - ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ

- မြန်မာ့မီးရထား

နောက်ဆက်တွဲ (က-၁)

FROM : HEADOFSTAFF FAX NO. : 067405031 Aug. 04 2014 11:35AM P1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ်၊ ၁၆၄၉ /၃၃၆-လွှဲပြောင်း၂-၁၉/အဖရ(၂၀၁၄)
ရက် စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင်လ ၁၄ ရက်

သို့

ဦးစိုးသိန်း
ဥက္ကဋ္ဌ
စီးပွားရေးရာကော်မတီ

အကြောင်းအရာ။ **အမှုတွဲလွှဲပြောင်းပေးပို့ခြင်း**

ရည်ညွှန်း ချက် ။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၁၀-၇-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁/ ၁၅(Dry Port)/၂၀၁၄ (၂၃၂၈)

ကုလသမဂ္ဂအာရှနှင့်ပစိဖိတ်ဒေသဆိုင်ရာ စီးပွားရေးနှင့်လူမှုရေးကော်မရှင် (UNESCAP) နှင့် ၏ ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူစာချုပ်အရ ရန်ကုန်တိုင်းဒေသကြီးတွင် ရွာသာကြီး၌လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီးတွင် မြစ်ငယ်၌လည်းကောင်း အစပျိုးဆောင်ရွက်မည့် ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု အကောင်အထည်ဖော်မည့် အစီအစဉ်အား ခွင့်ပြုနိုင်ပါရန်နှင့် လုပ်ငန်းစဉ်အရ ဦးစွာဖွဲ့စည်းရန် လိုအပ်သည့် "စီမံကိန်းဖြစ်မြောက်ရေး ဦးစီးကော်မတီ"နှင့် တင်ဒါ ခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီ"များဖွဲ့စည်းခွင့်ပြုနိုင်ပါရန် ရည်ညွှန်းစာဖြင့် တင်ပြမှုနှင့်ပတ်သက်၍ လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အမှုတွဲ လွှဲပြောင်းပေးပို့ပါသည်။

ပူးတွဲ။ ရည်ညွှန်းတင်ပြစာ(၄)ရွက်။

ဖော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ။

နိုင်ငံတော်သမ္မတရုံး
သမ္မတရုံးဝန်ကြီးဌာန(၁)
သမ္မတရုံးဝန်ကြီးဌာန(၅)
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (က-၂)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

သမ္မတရုံးဝန်ကြီးဌာန(၃)

စာအမှတ်၊ ၁၁ ( ၂ ) / ၁၄ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၁၈ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ (၂၄ / ၂၀၁၄ )၏ မှတ်တမ်းကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီအစည်းအဝေး ( ၂၄ / ၂၀၁၄ ) ကို ၁၇ - ၇ - ၂၀၁၄ ရက်နေ့ ( ကြာသပတေးနေ့ )တွင် သမ္မတရုံးဝန်ကြီးဌာန(၃)၊ ရုံးအမှတ်(၁၄) အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဇယားဖြင့် တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ

ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ

မိတ္တူကို

နိုင်ငံတော်သမ္မတရုံး

စီးပွားရေးရာကော်မတီဝင်(အားလုံး)

နိုင်ငံခြားရေးဝန်ကြီးဌာန

ပြန်ကြားရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

| စဉ် | တင်ပြသည့်ဝန်ကြီးဌာန | အကြောင်းအရာ | ဆုံးဖြတ်ချက် |
|---|---|---|---|
| ၂၅။ | ဘဏ္ဍာရေးဝန်ကြီးဌာန | ဝန်ကြီးဌာနများက စီးပွားရေးဆိုင်ရာ အထူးလုပ်ငန်းများကို လှည့်ပတ်ရန်ပုံငွေစနစ်ဖြင့် ဆောင်ရွက်ရာတွင် လိုက်နာရမည့်နည်းလမ်း တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ |
| ၂၆။ | အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန | မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ် စီမံကိန်းဦးစီးရုံး ဆောက်လုပ်ရန် မြေနေရာတောင်းခံခြင်းကိစ္စတင်ပြခြင်း။ | မြေယာလွှဲပြောင်းမှုဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ နိုင်ငံတော်သို့ လျှောက်ထားဆောင်ရွက်သွားရန်။ |
| ၂၇။ | ဆောက်လုပ်ရေးဝန်ကြီး ဌာန | ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်မြို့နယ် နည်းပညာတက္ကသိုလ် သွားလမ်း (၂) မိုင် (၃)ဖာလုံကို ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်လမ်းအဖြစ် လွှဲပြောင်းလက်ခံ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးက ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၂၈။ | ရထားပို့ဆောင်ရေးဝန်ကြီး ဌာန | ကုန်းတွင်းဆိပ် (Dry Port) စီမံကိန်းများ အကောင်အထည်ဖော်ဆောင်ရွက်ခွင့်ပြုပါရန်နှင့် လိုအပ်မည့်ကော်မတီများ ဖွဲ့စည်းခွင့်ပြုပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးက ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၂၉။ | ရထားပို့ဆောင်ရေးဝန်ကြီး ဌာန | သင်ထောက်ကူပစ္စည်းအဖြစ် ဖြည့်ဆည်းထောက်ပံ့ပေးပါရန် အဆိုပြုလာခြင်းကိစ္စ တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ ခွင့်ပြုပါက ဝန်ကြီးဌာန EC ဖြင့် ဆောင်ရွက်သွားရန်။ |

နောက်ဆက်တွဲ (က-၃)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စာအမှတ်၊ ၁၊၂၂ /၃၂၅-စီမံကိန်း၂-၁၉/အဖရ(၂၀၁၄)

ရက် စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင်လ [illegible] ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ ကုန်းတွင်းဆိပ်(Dry Port)စီမံကိန်းများ အကောင်အထည်ဖော် ဆောင်ရွက်ခွင့်ပြုပါရန်နှင့် လိုအပ်မည့်ကော်မတီများ ဖွဲ့စည်းခွင့်ပြုပါရန် တင်ပြသည့်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၁၀-၇-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁/၁၅(Dry Port)/၂၀၁၄ (၃၂၈)

(၂) စီးပွားရေးရာကော်မတီ၏ ၁၈-၇-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁၁(၂)/၁၄/သမ္မတရုံး

ကုလသမဂ္ဂအာရှနှင့်ပစိဖိတ်ဒေသဆိုင်ရာ စီးပွားရေးနှင့်လူမှုရေးကော်မရှင် (UNESCAP)၏ ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူစာချုပ်အရ ရန်ကုန်တိုင်းဒေသကြီးတွင် ရွာသာကြီး၌လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီးတွင် မြစ်ငယ်၌လည်းကောင်း အစပျိုးဆောင်ရွက်မည့် ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု အကောင်အထည်ဖော်မည့် အစီအစဉ်အား ခွင့်ပြုနိုင်ပါရန်နှင့် လုပ်ငန်းစဉ်အရ ဦးစွာဖွဲ့စည်းရန် လိုအပ်သည့် "စီမံကိန်းဖြစ်မြောက်ရေး ဦးစီးကော်မတီ"နှင့် တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီ"များဖွဲ့စည်းခွင့်ပြုနိုင်ပါရန် ရည်ညွှန်းစာဖြင့် တင်ပြမှုနှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ပါရန် အကြောင်းကြားပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ

နိုင်ငံတော်သမ္မတရုံး
သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
စီးပွားရေးရာကော်မတီ
သမ္မတရုံးဝန်ကြီးဌာန(၃)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁/၁၅(Dry Port)/၂၀၁၄( ၂၈၂၀ )
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၈ ရက်

အကြောင်းအရာ ။ ကုန်းတွင်းဆိပ် (Dry Port) စီမံကိန်းများ အကောင်အထည်ဖော် ဆောင်ရွက်ခွင့်ပြုပါရန်နှင့် လိုအပ်မည့်ကော်မတီများ ဖွဲ့စည်းခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

UNESCAP ၏ **ကုန်းတွင်းဆိပ်များဆိုင်ရာ အစိုးရများအကြား သဘောတူစာချုပ်**အရ ရန်ကုန်တိုင်းဒေသကြီးတွင် ရွာသာကြီး၌လည်းကောင်း၊ မန္တလေးတိုင်းဒေသကြီးတွင် မြစ်ငယ်၌လည်းကောင်း အစပျိုးဆောင်ရွက်မည့် ကုန်းတွင်းဆိပ်စီမံကိန်း(၂)ခု အကောင်အထည်ဖော်မည့် အစီအစဉ်အား ခွင့်ပြုနိုင်ပါရန်နှင့် လုပ်ငန်းစဉ်အရ ဦးစွာဖွဲ့စည်းရန်လိုအပ်သည့် "စီမံကိန်းဖြစ်မြောက်ရေး ဦးစီးကော်မတီ"နှင့် "တင်ဒါခေါ်ယူရေးနှင့် စိစစ်ရေးကော်မတီ"များ ဖွဲ့စည်းခွင့်ပြုရန်ကိစ္စနှင့်စပ်လျဉ်း၍ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၃၁)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၄)က သဘောတူခွင့်ပြုပြီးဖြစ်ပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ လိုအပ်သည်များ ဆက်လက်ဆောင်ရွက်ရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ဝင်းနောင် - ရုံးအဖွဲ့မှူး )

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား

လျှို့ဝှက်

နောက်ဆက်တွဲ (ခ)

# မြစ်ငယ်ကုန်းတွင်းဆိပ် (Dry Port) စီမံကိန်း

## စီမံကိန်းလျာထားရာနေရာ



နောက်ဆက်တွဲ-စ၁

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(ကုန်းတွင်းဆိပ်)/၂၀၁၇(၅၅၉)

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်းအဆိုပြုမြေနေရာအပေါ် ကန့်ကွက်စာတင်ပြမှုအား ရှင်းလင်းတင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ(၂၁)ရက်စွဲပါ စာအမှတ်၊ မရက-၃/ထွေ/၂၀၁၇(၂၈၄)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းပါကန့်ကွက်စာ တင်သွင်းသူများ၏ တည်နေရာမှာ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင်မြေအဖြစ် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ(၁၉)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၅၄/၂၀၁၄)ဖြင့် မြေလွှဲပြောင်းပေးခဲ့သော ဧရိယာ(၁၈၉.၁၇)ဧကအတွင်း အကျုံးဝင်ပြီး အဆိုပါ မြေလွှဲဧရိယာတစ်ခုလုံးအား မြန်မာ့မီးရထားပိုင်အဖြစ်လည်းကောင်း၊ စီမံကိန်းလုပ်ငန်းအဆောက်အဦများ တည်ဆောက်ရန်အတွက်လည်းကောင်း၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ တည်နေရာပြမြေပုံနှင့် ပိုင်ဆိုင်မှုပြမြေပုံများ ထုတ်ယူပြီးစီးပြီးဖြစ်ပါသည်။(နောက်ဆက်တွဲ "က" ဖြင့်ဖော်ပြအပ်ပါသည်။)

၂။ အဆိုပါ မြေဧရိယာကို ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ လယ်မြေတစ်ဧက ပေါက်ဈေးသတ်မှတ်ချက်၊ ဘဏ္ဍာငွေ ရရှိမှုနှင့် ဦးစားပေးစီမံကိန်းဆောင်ရွက်မည့်နေရာများအပေါ် မူတည်၍ မြန်မာ့မီးရထားမှ မူလ လယ်သမားများအား လယ်ယာမြေလျော်ကြေးပေးချေလျက်ရှိပြီး ကန့်ကွက်သူများ တင်ပြသည့်ဧရိယာ အတွက်လည်း လျော်ကြေးဆက်လက်ပေးချေသွားမည်ဖြစ်ပါသည်။

၃။ ကန့်ကွက်စာပါ ပူးတွဲအထောက်အထားများနှင့်ပတ်သက်၍ အောက်ပါအတိုင်းတွေ့ရှိ ရပါသည်-

(က) လယ်မြေပိုင်ဆိုင်မှုအထောက်အထား၌ ပါဝင်သည့် မြေပုံအား စိစစ်ရာ မြေတိုင်း(၄)၊ အုပ်စုမြေစာရင်းအဆင့်သာ လက်မှတ်ရေးထိုးထားခြင်း၊ လုပ်ကိုင်ခွင့်ရရှိသူအမည်တွင် ကန့်ကွက်စာတင်သွင်းသူများ၏ အမည်ဖြစ်သော်လည်း ပိုင်ဆိုင်ခွင့်တွင် အစိုးရဟု ရေးသွင်းထားခြင်း၊ လျှောက်ထားသည့်အကြောင်းအရာတွင် ကန့်ကွက်ဧရိယာ သိရှိနိုင်ရန်ဟု ရေးသားထားခြင်း။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်မိတ္တူမှာ မြေနေရာအား ခွင့်ပြုခြင်းမဟုတ်ဘဲ လုပ်ငန်းအပေါ်သာ ခွင့်ပြုမိန့်ထုတ်ပေးထားခြင်း၊ ခွင့်ပြုစာပါ လုပ်ငန်းတည်နေရာမှာ ရွှေပေါက်ကံစက်မှုဇုန်ဖြစ်ခြင်း။

(ဂ) ခရိုင်နှင့် မြို့နယ် အထွေထွေအုပ်ချုပ်ရေးမှူးတို့၏ ထောက်ခံစာတွင် မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၏ ခွင့်ပြုဧရိယာအတွင်းပါဝင်ကြောင်းပါရှိခြင်း။

(ဃ) ကန့်ကွက်သူများတင်ပြသည့်ဧရိယာအား စိစစ်ရာ ကုန်းတွင်းဆိပ်လုပ်ငန်း ဆောင်ရွက်မည့်ဧရိယာမဟုတ်ပါ။ အဆိုပါမြေနေရာသည် မြန်မာ့မီးရထားက ဂျပန်နိုင်ငံအစိုးရ၏ ODA ချေးငွေဖြင့် အကောင်အထည်ဖော်ဆောင်ရွက်နေသည့် Yangon-Mandalay Railway Improvement Project Phase (1) တွင်ပါဝင်သည့် DEMU စက်ခေါင်းနှင့် တွဲများ မွမ်းမံပြင်ဆင်ရန် Workshop နှင့် Depot ဆောင်ရွက်မည့် မြေနေရာဖြစ်ကြောင်း တွေ့ရှိရခြင်း။

၄။ စိစစ်တွေ့ရှိချက်များအရ အောက်ပါအတိုင်း သုံးသပ်ရရှိပါသည်-

(က) လယ်မြေပိုင်ဆိုင်မှုအထောက်အထားမှာ ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေနှင့် အကျုံးမဝင်သည့်အပြင် လက်မှတ်ရေးထိုးသူ၏ ရာထူးအဆင့်မှာ ဝန်ထမ်းငယ်ဖြစ်ခြင်း၊ ပိုင်ဆိုင်ခွင့်တွင် အစိုးရဟု ရေးသားထားခြင်းတို့ကြောင့် စာဖြင့် ကန့်ကွက်သူများမှာ ပိုင်ရှင်အစစ်အမှန်မဟုတ်ခြင်း၊ တင်ပြသည့်မြေပုံမှာ လယ်သမားနှင့်ကန့်ကွက်သူများ၏ တရားဝင်အခွန်မဆောင်ဘဲ လယ်ယာမြေ ရောင်းဝယ်မှု အဆင်ပြေစေရန်အတွက် မြေစာရင်းဦးစီးဌာနမှ ဝန်ထမ်းငယ်အကူအညီနှင့် တရားမဝင်မြေပုံထုတ်ထားခြင်း ဖြစ်ကြောင်း။

(ခ) ကန့်ကွက်သူများမှ ကန့်ကွက်ဧရိယာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိထားသယောင် လှည့်ဖြားထားခြင်းဖြစ်ကြောင်း။

(ဂ) မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမြေဖြစ်သဖြင့် ခရိုင်နှင့် မြို့နယ် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနများမှ ထောက်ခံစာများ ပေးပို့ထားသော်လည်း ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အတည်ပြုစာထုတ်ပြန်ပေးထားမှုမရှိပါကြောင်း။

(ဃ) ကုန်းတွင်းဆိပ်လုပ်ငန်းဆောင်ရွက်မည့်နေရာနှင့် ကန့်ကွက်သည့်နေရာတို့ သိသာစွာကွဲလွဲနေပါကြောင်း။

၅။ အထက်အပိုဒ်(၃)နှင့် (၄)ပါ ကန့်ကွက်စာအပေါ် တွေ့ရှိချက်၊ စိစစ်ချက်များနှင့် အပိုဒ်(၁)ပါ မြန်မာ့မီးရထား၏ တရားဝင်ပိုင်ဆိုင်မှုများအပေါ်သုံးသပ်ခြင်းအားဖြင့် Myanmar Motor Corporation Public Company Limited ၏ ကန့်ကွက်မှုအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ထည့်သွင်းစဉ်းစားရန် မသင့်ပါကြောင်းနှင့် စီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော်သည့်ကာလ၌ ကိုယ်ထိလက်ရောက် ကန့်ကွက်လာပါက ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှ တရားစွဲဆိုဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

ပူးတွဲ - (၇)ရွက်

၂၄ / ၂ / ၂၀၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(သူရအောင်မျိုးမြင့်-ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ

- မြန်မာ့မီးရထား

ဆောက်လုပ်ရေးဝန်ကြီးဌာန

အမိန့်ကြော်ငြာစာအမှတ် ( ၅၄ / ၂၀၁၄ )

နေပြည်တော်၊ ၁၃၇၆ ခုနှစ်၊ နယုန်ဆောက်လ ဆုတ် ၁၃ ရက်

( ၂၀၁၄ ခုနှစ် ၊ ဇူလိုင်ဘာ လ ၁၉ ရက် )

မြေလွှဲပြောင်းပေးခြင်း

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးသည် ၁၉၅၁ ခုနှစ်၊ နိုင်ငံတော် ပြည်သူ့အိုးအိမ် ပြန်လည်ထူထောင်ရေး နှင့် မြို့ရွာစည်ပင်ရေးအဖွဲ့အက်ဥပဒေပုဒ်မ-၂၇(၁)(ခ ၁)အရအပ်နှင်းထားသည့် အခွင့်အာဏာများကို သုံးစွဲလျက် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရွာသာကြီးဘုတဲ ယာဒ်ဝင်း အတွက် ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား သို့ အောက်ပါ စည်းကမ်းချက်များဖြင့် လွှဲပြောင်းပေးလိုက်သည် -

(က) ဖော်ပြပါ မြေကို အများပြည်သူ အကျိုးငှာ ရွာသာကြီးဘုတဲယာဒ်ဝင်း၊ မြန်မာ့မီးရထား အတွက်သာ အသုံးပြုရန် နှင့် အခြားနည်းဖြင့် အသုံးမပြုရ၊

(ခ) မြေကို မြန်မာ့မီးရထားမှ အသုံးပြုရန် မလိုအပ်သည့်အခါ ထိုမြေကို ဤဝန်ကြီးဌာနသို့ ပြန်လည်အပ်နှံရန်နှင့် အစိုးရမှ ပြန်လည် သိမ်းယူမည်။

(ဂ) မြေကိုအသုံးပြုရာတွင် မြန်မာ့ မီးရထားနှင့် ဤဝန်ကြီးဌာနတို့ အယူအဆ သဘောထားကွဲလွဲမှု ရှိသည့်အခါ ယင်းကိစ္စကို ပြည်ထောင်စုအစိုးရ သို့ တင်ပြ၍ အဆုံးအဖြတ်ခံယူရမည်။

၂။ လွှဲပြောင်းပေးသည့် မြေ၏ အကြောင်းအရာ ဖော်ပြချက်

| တိုင်းဒေသကြီး | မြို့နယ် | မြေတိုင်းရပ်ကွက်အမှတ် | မြေကွက်အမှတ် | ခန့်မှန်းမြေဧရိယာ | |
|---|---|---|---|---|---|
| | | | | ဧက | ဒသမ |
| ရန်ကုန်တိုင်းဒေသကြီး | ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ် | ၁၈၀ - အေ | ၁ | ၃၈၉ | ၁၇ |

နယ်နိမိတ်အလားအလာ ဖော်ပြချက် -

အရှေ့လားသော် - ရွာသာကြီးဘုတာ

အနောက်လားသော် - စက်မှုလယ်ယာ စိုက်ပျိုးရေးဇုန် (၁)

တောင်လားသော် - အင်းဝလမ်း

မြောက်လားသော် - မြို့ပတ်လမ်း

၄။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၁၆ - ၁၂ - ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၃ / ခွဲ - ၃ / ၂၀၁၄ (စီ ၁၄၈၆၁) အရ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၈၀-အေ)၊ မြေကွက်အမှတ် (၁)၊ ဧရိယာ (၃၈၉.၁၇)ဧကအား ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားသို့ ဤအမိန့်ကြော်ငြာစာ (ပြန်တမ်း) ဖြင့် လွှဲပြောင်းပေးပါသည်။

ကျော်လွင်
ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ မခ/ မသ /၅၄-အယ်လ် - ၂၀၁၄ ( ၆၁၈၆ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ ၁၉ ရက်

ဖြန့်ဝေခြင်း

၁။ နိုင်ငံတော်သမ္မတရုံး

၂။ ပြည်ထောင်စု အစိုးရ အဖွဲ့ရုံး

၃။ ဝန်ကြီးရုံး၊ ပြည်ထဲရေးဝန်ကြီးဌာန၊ နေပြည်တော်

၄။ ဝန်ကြီးရုံး၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန သို့ လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် ပြန်တမ်း နှင့် အတူ မြေပုံ (၁)ပုံ ပူးတွဲပေးပို့ပါသည်။

၅။ ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ နေပြည်တော်

၆။ တိုင်းဒေသကြီးဝန်ကြီးချုပ်၊ ရန်ကုန်တိုင်းဒေသကြီး

၇။ ဥက္ကဋ္ဌ (မြို့တော်ဝန်)၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

၈။ သစ်တောနှင့်စွမ်းအင်ဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

၉။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာန

၁၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ ပုံနှိပ်ရေးနှင့် စာအုပ်ထုတ်ဝေရေးလုပ်ငန်းသို့ မြန်မာနိုင်ငံပြန်တမ်းတွင် ထည့်သွင်းကြော်ငြာပေးပါရန် နှင့် ပြန်တမ်းမိတ္တူ (၃) စုံ အား ဤဦးစီးဌာနသို့ပေးပို့ပါရန် မေတ္တာရပ်ခံ ပေးပို့အပ်ပါသည်။

၁၁။ ဦးဆောင်ညွှန်ကြားရေးမှူး ၊ မြန်မာ့မီးရထား ၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာနသို့ လိုအပ်သလို ဆောင်ရွက် နိုင်ပါရန် ပြန်တမ်းနှင့်အတူ မြေပုံ (၁) ပုံ ပူးတွဲပေးပို့အပ်ပါသည်။

၁၂။ ဒုတိယညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊ နေပြည်တော်

၁၃။ ဌာနမှူး၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ အထက်ဇယားပါမြေအား မြို့မြေစာရင်းတွင် မြန်မာ့မီးရထားအမည်ပေါက်အဖြစ် မှတ်သားပေးနိုင်ပါရန် ပြန်တမ်း နှင့်အတူ မြေပုံ(၁)ပုံ ပူးတွဲ ပေးပို့ပါသည်။ မှတ်သားပြီးပါက ဤဦးစီးဌာန သို့ ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၄။ ညွှန်ကြားရေးမှူး(မြေခွန်/မြေတိုင်း) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၁၅။ ညွှန်ကြားရေးမှူး(မြို့ပြ) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၁၆။ ညွှန်ကြားရေးမှူး(စီမံ/အိမ်ရာ) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၁၇။ ညွှန်ကြားရေးမှူး(စီမံကိန်း/ရေသန့်) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၁၈။ တိုင်းဒေသကြီးမြေစာရင်းဦးစီးမှူး ၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန ၊ ရန်ကုန်တိုင်းဒေသကြီး

၁၉။ ခရိုင်အုပ်ချုပ်ရေးမှူး၊ ရန်ကုန်အရှေ့ပိုင်းခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

၂၀။ ဒုတိယညွှန်ကြားရေးမှူး(မြေတိုင်း)၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံသို့ အထက်ဇယားပါ မြေကို မြန်မာ့မီးရထား အမည်ပေါက်အဖြစ် မြို့မြေစာရင်းတွင် မှတ်သားပေးနိုင်ပါရန် မြေပုံ (၁) ပုံ ပူးတွဲ ပေးပို့အပ်ပါသည်။

၂၁။ ဒုတိယညွှန်ကြားရေးမှူး (မြေခွန်)မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၂၂။ လက်ထောက်ညွှန်ကြားရေးမှူး(မြေတိုင်း) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၂၃။ လက်ထောက်ညွှန်ကြားရေးမှူး(မြေခွန်) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၂၄။ မြို့နယ်အုပ်ချုပ်ရေးမှူး၊ မြို့နယ်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာန ၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်

၂၅။ ဦးစီးအရာရှိ ၊ မြေယာရုံးခွဲ ( ၈ ) ၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

၂၆။ ရုံးလက်ခံ

၂၇။ မျှောစာ။

အမိန့်အရ

(signature) ၁၀/၁၃

မင်းထိန်

ညွှန်ကြားရေးမှူးချုပ်

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ နပတ /မြို့-ရာ/မယ/၂၀၁၆( ၁၂၇၅ )
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇွန် လ ( ၂၄ ) ရက်

သို့
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့မီးရထား

အကြောင်းအရာ။ **ကုန်းတွင်းဆိပ် လုပ်ငန်းများ ဆောင်ရွက်ရန် အတွက် မြေတိုင်း မြေပုံ နှင့် သက်သေခံ မြေပုံ ရေးဆွဲပေးပါရန် ကိစ္စ ။**

ရည် ညွှန်း ချက် ။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား ၏ ( ၂၇ - ၄ - ၂၀၁၆ )ရက်စွဲပါစာအမှတ်၊ ၇၀၆ -အလ-၂၀၁၆/ရွာသာကြီး/၂၃၂၄ ။

၁။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံ မြို့သစ် ( အရှေ့ပိုင်း ) မြို့နယ်၊ ရွာသာကြီးဘူတာယာဒ်ဝင်းအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန မှ အမိန့်ကြော်ငြာစာအမှတ် - ၅၄/၂၀၁၅ ဖြင့် လွှဲပြောင်းပေးသည့် မြေဧရိယာ ( ၃၈၉. ၁၇ )ဧက အနက် မြေဧက (၈၀) အား မြေတိုင်းမြေပုံ နှင့် သက်သေခံမြေပုံ ရေးဆွဲပေးပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြ လျှောက်ထား လာပါသည် ။

၂။ သို့ပါ၍ မြေဧရိယာ ( ၃၈၉. ၁၇ ) ဧက အတွက် အဆောက်အဦ ဆောက်လုပ်ရန် သက်သေခံ မြေပုံ ရေးကူးခြင်း ကျသင့်ငွေ ၁၅၅၇၀၀၀၀/-( ကျပ် တစ်ရာငါးဆယ့်ငါးသိန်းခုနှစ်သောင်း တိတိ ) အား လာရောက် ပေးသွင်းနိုင်ပါရန် အကြောင်းကြားအပ်ပါသည် ။

ညွှန်ကြားရေးမှူးချုပ် ( ကိုယ်စား )
( ထွန်းမြင့်အောင်၊ ဒုတိယညွှန်ကြားရေးမှူး )
မြေနှင့်အိမ်ရာဌာနခွဲ

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဒုတိယညွှန်ကြားရေးမှူးချုပ် ( အုပ်ချုပ်ရေး) မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဒုတိယညွှန်ကြားရေးမှူး ( မြေယာ )/(မြေတိုင်း)မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ရုံးလက်ခံ / မျှောစာ ။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# အရင်းအမြစ် အုပ်စု ထောက်ပံ့ရေး ကုမ္ပဏီ လီမိတက်

# RESOURCES GROUP LOGISTICS COMPANY LIMITED

မှ

ရန်ကုန်တိုင်းဒေသကြီး၊ (ရွာသာကြီး) တွင်

B.O.T စနစ်ဖြင့် ကုန်းတွင်းဆိပ် တည်ဆောက်ပြီး

ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက်

"အဆိုပြုလွှာတင်ပြချက်"

ကုန်းတွင်းကုန်သေတ္တာစခန်း(ရွာသာကြီး)



**RESOURCES GROUP LOGISTICS COMPANY LIMITED**

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.

Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

RGLC

စာအမှတ်၊ RGLC/Dry Port/ 002-(01)/2017

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ၊ (၂၇)ရက်။

သို့

အဖွဲ့ခေါင်းဆောင်
အဆိုပြုချက်စီစစ်ရေးအဖွဲ့၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

အကြောင်းအရာ။ ။ **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက် ။ ။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၏ (၂၀.၁၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရထ -၂/ရန (ကုန်းတွင်းဆိပ်)/ ၂၀၁၆ (၃၀၁၈)။

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၁၂-၂၀၁၆) ရက်စွဲပါ စာအမှတ် မရက-၄/ မ-၁၅၆၈/၂၀၁၆(၁၁၅၇)။

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုစိစစ်ရေးအဖွဲ့၏ (၁၆.၁.၂၀၁၇) ရက်စွဲပါ စာအမှတ် မရက-၄/မ-၁၅၆၈/ ၂၀၁၇ (၀၇၈)။

၁။ Resources Group Logistics Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ ရွာသာကြီး၊ ရန်ကုန်-မန္တလေး မီးရထားလမ်း၊ Plot A ရှိ မြေဧရိယာ ၄၀ ဧကနှင့် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ မြစ်ငယ်ရပ်ကွက်၊ ရန်ကုန်-မန္တလေး မီးရထားလမ်းနှင့် စစ်ကိုင်း-မြစ်ငယ်လမ်း၊ Plot A1 ရှိ မြေဧရိယာ ၁၈.၄၇ ဧက နှင့် Plot A2 ရှိ မြေဧရိယာ ၁၃.၉၅၆ ဧကတွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်ကျေးမှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်းချက်အမှတ် (၁)ပါ စာဖြင့် တင်ပြခဲ့ခြင်းအတွက် ရည်ညွှန်းချက် (၂) နှင့် (၃) တို့ပါ စာများအရ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ပါမည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု

(Corporate Social Responsibility-CSR)အတွက်အသားတင်အမြတ်ငွေ၏ (၁%)အား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက် ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ပါမည်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ကို စီမံကိန်းတွင်ပါရှိသော ဒေသ (၂)ခု (ရန်ကုန်တိုင်းဒေသကြီး၊ ရှာသာကြီးနှင့် မန္တလေးတိုင်းဒေသကြီး၊ မြစ်ငယ်)တို့အတွက်ခွဲခြားဆောင်ရွက်ထားပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာအား ရေးသားတင်ပြရန်အတွက် National Engineering & Planning Services Co., Ltd. သို့ လုပ်ငန်းအပ်နှံပြီး ဆောင်ရွက်ထားပါသည်။ အစီရင်ခံစာ ကိုရရှိပါက ဆက်လက်တင်ပြ၍ အစီရင်ခံစာပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ကိုလည်း စီမံကိန်းတွင် ပါရှိသောဒေသ (၂)ခု (ရန်ကုန်တိုင်းဒေသကြီး၊ ရှာသာကြီးနှင့် မန္တလေးတိုင်းဒေသကြီး၊ မြစ်ငယ်) တို့အတွက် ခွဲခြားဆောင်ရွက်ထားပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်အတွက် National Engineering & Planning Services Co., Ltd. သို့ လုပ်ငန်းအပ်နှံပြီး ဆောင်ရွက်ထားပါသည်။ အစီရင်ခံစာကိုရရှိပါက စီမံချက်၌ ဖော်ပြထားသည့် အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်၊ အစီရင်ခံစာကို ရရှိပါက ဆက်လက်တင်ပြပါမည်။ .

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်သွားပါမည်၊

၂။ အထက်ဖော်ပြပါ အချက်အလက်များအား သိရှိ၍သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီဆောင်ရွက်မည့် အစီအစဉ်များအား သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ တိုက်ရိုက် တင်ပြ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လည်း မိတ္တူပေးပို့သွားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမောင်ကျေး
ဥက္ကဋ္ဌ
Resources Group Logistics Co., Ltd.

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

# "အရင်းအမြစ် အုပ်စု ထောက်ပံ့ရေး ကုမ္ပဏီ လီမိတက်"

## B.O.T စနစ်ဖြင့် ကုန်းတွင်းဆိပ် တည်ဆောက်ပြီး
## ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက်
## ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်း

<u>အညွှန်း</u>

| | |
|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်လုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြစာ |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား လျှောက်ထားစာ |
| ၃။ | မနသ ပုံစံ (၁) |
| ၄။ | ဝန်ခံကတိပြုချက်များ |
| ၅။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် |
| ၆။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်းအစီရင်ခံစာ |
| ၇။ | လူမှုဖူလုံရေးအစီအစဉ် |
| ၈။ | အစုရှယ်ယာရှင်များ နှင့် ဒါရိုက်တာများစာရင်း |
| ၉။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ငွေကြေးဆိုင်ရာ တွက်ချက်မှု စာရင်းဇယားများ |
| ၁၀။ | ချေးငွေရယူမည့် စာရွက်စာတမ်း အထောက်အထား |
| ၁၁။ | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ချုပ်ဆိုသော မြေငှား စာချုပ်(မူကြမ်း)များ နှင့် B.O.T စာချုပ်(မူကြမ်း)များ အပေါ် သဘောထားမှတ်ချက် ပြန်ကြားချက်များနှင့် ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်များ |
| ၁၂။ | မြေနေရာ အကျယ်အဝန်း နှင့် B.O.T စာချုပ်(မူကြမ်း)၊ မြေငှား စာချုပ်(မူကြမ်း)များ |
| ၁၃။ | ရန်ကုန်တိုင်းဒေသကြီး၊(ရွာသာကြီး) တွင် တည်ဆောက်ရန်လျာထားသော ကုန်းတွင်းကုန်သေတ္တာစခန်းဆိုင်ရာ ကနဦး အဆိုပြု ပုံစံများ |
| ၁၄။ | ငွေကြေးဆိုင်ရာ အထောက်အထားများ |
| ၁၅။ | ကုမ္ပဏီဆိုင်ရာ အထောက်အထားများ |

**RESOURCES GROUP LOGISTICS COMPANY LIMITED**

RGLC
No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.
Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။ ။ RGLC / Dry Port (YGN)/ MIC–002/ 2016။

ရက်စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (   ) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် တင်ပြချက်။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ် လုပ်ငန်းကို ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ကျွန်တော်များ Resources Group Logistics Co., Ltd. တို့အကြား (B.O.T Agreement) နှင့် (Land Lease Agreement) စာချုပ်များ ချုပ်ဆိုပြီး လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ခွင့်ပြုမိန့် လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမောင်ကျေး

ဥက္ကဋ္ဌ

Resources Group Logistics Co., Ltd.

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

- ခွင့်ပြုမိန့်နှင့် ကင်းလွတ်ခွင့်၊သက်သာခွင့်များအတွက် အဆိုပြုတင်ပြချက်

- ပုံစံ(မနသ-၁)ဖြင့် အဆိုပြုတင်ပြချက်

RESOURCES GROUP LOGISTICS COMPANY LIMITED
No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.
Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com
RGLC

သို့

ဥက္ကဋ္ဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ ၊ RGLC / Dry Port (YGN)/ MIC–003/ 2016။

ရက်စွဲ ၊ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (   ) ရက်။

အကြောင်းအရာ။ ။ **<u>ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်လုပ်ငန်းကို (B.O.T) စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်နှင့် ဥပဒေအခန်း(၁၁)ပါ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအတွက် အဆိုပြု တင်ပြချက်။</u>**

ရည်ညွှန်းချက်။ ။ မြန်မာ့မီးရထား၏ ၁၀-၁-၂၀၁၆ ရက်စွဲဖြင့် Dry Ports Project Award Letter

၁။ ကျွန်တော်များကုမ္ပဏီသည် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်လုပ်ငန်းကို ရည်ညွှန်းပါစာအရ တင်ဒါအောင်မြင်ခဲ့ပါသဖြင့် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် (B.O.T) စနစ်ဖြင့် စာချုပ်များချုပ်ဆိုပြီး၊ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်သွားလိုပါသဖြင့် အဆိုပြု တင်ပြအပ်ပါသည်။

၂။ အဆိုပြု စီမံကိန်းလုပ်ငန်းများကို အကောင်အထည်ဖော်ရာတွင် စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်သန်းပေါင်း (၂၅,၂၆၅.၀၈၄) နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၅.၅၅၀) သန်း၊ စုစုပေါင်း ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း (၃၂,၇၅၇.၂၉၄) ဖြစ်ပါသည်။ စီမံကိန်းအတွက် လိုအပ်သည့် ကုန်ကြမ်းနှင့် စက်ပစ္စည်းကိရိယာများကို စီးပွား/ကူးသန်းဝန်ကြီးဌာနသို့ Normal System ဖြင့် သွင်းကုန်လိုင်စင် ခွင့်ပြုချက်ရယူပြီးမှ တင်သွင်း အသုံးပြုသွားမည် ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းကို ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ကုမ္ပဏီတို့ အကြား (B.O.T Agreement) နှင့် (Land Lease Agreement) စာချုပ်များ ချုပ်ဆိုပြီးလည်းကောင်း၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့်လည်းကောင်း၊ နှစ်ပေါင်း (၅၀) လုပ်ငန်းလုပ်ကိုင်ခွင့်နှင့် အဆိုပါလုပ်ငန်း ကာလပြည့်ပြီးနောက် ဆက်လက်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ကို (၁၀)နှစ် (၂)ကြိမ် သက်တမ်း တိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် အဆိုပြု တင်ပြအပ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏ၊ နိုင်ငံတော်သို့ ပေးသွင်းရမည့် ဝင်ငွေခွန်နှင့် မြန်မာ့မီးရထားဌာနသို့ ဝင်ငွေအပေါ် နှစ်အလိုက်ပေးသွင်းရမည့် သတ်မှတ်ကြေး ရာခိုင်နှုန်းထားများ စသည့်အခြေအနေနှင့် ငွေကြေးဆိုင်ရာ စာရင်းဇယား တွက်ချက်မှုများတို့အရ အရင်းကြေကာလမှာ (၈)နှစ် (၄)လ ဖြစ်ပြီး၊ Internal Rate of Return (IRR) မှာ (၂၁)% ဖြစ်ပါသည်။ စီမံကိန်းလုပ်ငန်းမှ ရရှိလာမည့် အကျိုးအမြတ်ကို ပြည်တွင်း၌ နိုင်ငံတော်အစိုးရမှ ခွင့်ပြုသည့် စီးပွားရေး လုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

RESOURCES GROUP LOGISTICS COMPANY LIMITED
No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.
RGLC Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

၅။ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုသည့်လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ရရှိပြီးပါက အဆိုပြုသည့် လုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)၊ ပုဒ်မ-၂၀ ပါ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်များ ရရှိရေးအတွက် စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားခွင့် ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၆။ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုတင်ပြချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်း အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မသန-ပုံစံ)၊
(၂) လုပ်ငန်းစီမံကိန်းနှင့် ငွေကြေးဆိုင်ရာ အထောက်အထား၊
(၃) အဆိုပြုလုပ်ငန်းအတွက် B.O.T ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်များ၊
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် အထောက်အထားများ၊
(၅) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုစာရင်းဇယားများ။

၇။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုတင်ပြချက်အား လက်ခံခွင့်ပြုပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပေးပါရန်နှင့်၊ ခွင့်ပြုမိန့် ထုတ်ပေးပါရန်တို့ကို တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမောင်ကျေး
ဥက္ကဋ္ဌ
Resources Group Logistics Co., Ltd.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ(မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ဥပဒေ ပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ။ ။ RGLC / Dry Port (YGN)/ MIC–001/ 2016။
ရက်စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( ) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | |
|---|---|
| (က)အမည် | - ဦးမောင်ကျော(ခ)တီကာကျွေး |
| (ခ) အဖအမည် | - ဦးခင်ငါး(ခ)ဦးခင်ရှိန် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - ၁၂/လသန (နိုင်) ဝ၁၈၁၇၄ |
| (ဃ) နေရပ်လိပ်စာ | - အမှတ် (စီ-၄)၊ မွန်မြတ်မေတ္တာအိမ်ယာ၊ ပင်ရွှေညောင်လမ်း၊ တာမွေကလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး၊ ဘာသာ | - တရုတ်/မြန်မာ၊ ဗုဒ္ဓ |
| (စ) အဖွဲ့အစည်းအမည် | - အရင်းအမြစ်အုပ်စု ထောက်ပံ့ရေး ကုမ္ပဏီ လီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | - ထောက်ပံ့ပို့ဆောင်ရေး |
| (ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် | - အမှတ်(၃၆)၊ သိမ်ဖြူလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

| | | |
|---|---|---|
| (က) အမည် | - | မရှိပါ။ |
| (ခ) အဖအမည် | - | - |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - | - |
| (ဃ) နေရပ်လိပ်စာ | - | - |
| (င) လူမျိုး၊ ဘာသာ | - | - |

(စ) အဖွဲ့အစည်းအမည် - -

(ဆ) လုပ်ငန်းအမျိုးအစား - -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - -

(နှစ်ဦး သို့မဟုတ် အဖွဲ့ အစည်း ၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - -

(ခ) ဝန်ဆောင်မှုလုပ်ငန်း - BOT စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်း

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - ကုမ္ပဏီ လီမိတက် (နောက်ဆက်တွဲ Annexe-A)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် ..................................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း ..................................................................

(ဂ) လီမိတက်ကုမ္ပဏီ အရင်းအမြစ် အုပ်စု ထောက်ပံ့ရေး ကုမ္ပဏီ လီမိတက်

(ဃ) သမဝါယမအသင်း ..................................................................

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်း အမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

..........................................................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား

..........................................................................................................................

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ

..........................................................................................................................

(နေရာမလုံလောက်ကသီးခြားစာရွက်ဖြင့်ဖော်ပြရန်)

၇။ သမဂ္ဂါယမအသင်း၊ လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀/-
(ကျပ် သန်းတစ်သောင်းတိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - ကျပ် ၁၀၀,၀၀၀/- တန် အစုရှယ်ယာပေါင်း
(၁၀၀,၀၀၀) (တစ်သိန်းတိတိ)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ခွင့်ပြုမတည်ငွေရင်း ရာနှုန်းပြည့် ထည့်ဝင်ပြီး ဖြစ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ (ကျပ်)

| | | အမေရိကန် ဒေါ်လာ | ကျပ် (သန်း) | စုစုပေါင်း ညီမျှသော (ကျပ်သန်း) (1 US$ - ၁,၃၅၀ ကျပ်) |
|---|---|---|---|---|
| (၁) | ငွေပမာဏ (နိုင်ငံခြားမတည်ငွေပါဝင်ပါက သီးခြားဖော်ပြရန်) | - | ၆၀၁.၂၀၆ | ၆၀၁.၂၀၆ |
| (၂) | စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | ၅,၄၀၉,၇၈၅ | - | ၇,၃၀၃.၂၁၀ |
| (၃) | အဆောက်အအုံများ/မြေ | - | ၁,၄၁၇.၃၇၄ | ၁,၄၁၇.၃၇၄ |
| (၄) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ တန်ဖိုးပမာဏ | ၁၄၀,၀၀၀ | ၂၃,၂၄၆.၅၀၄ | ၂၃,၄၃၅.၅၀၄ |
| (၅) | ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | - | - | - |
| | စုစုပေါင်း | ၅,၅၄၉,၇၈၅ | ၂၅,၂၆၅.၀၈၄ | ၃၂,၇၅၇.၂၉၄ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | | အမေရိကန်ဒေါ်လာ | ညီမျှသောကျပ်သန်း (1US$ - ၁၃၅၀ကျပ်) |
|---|---|---|---|
| (၁) | စက်ပစ္စည်း၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၅,၄၀၉,၇၈၅ | ၇,၃၀၃.၂၁၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူ ပစ္စည်းများ၏ တန်ဖိုး (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၁၄၀,၀၀၀ | ၁၈၉.၀၀၀ |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| | စုစုပေါင်း | ၅,၅၄၉,၇၈၅ | ၇,၄၉၂.၂၁၀ |

(ဂ) တည်ဆောက်မှုကာလ - ပထမအဆင့် စီမံကိန်း(၂)နှစ်
- ဒုတိယအဆင့် စီမံကိန်း (၂)နှစ်

(ဃ) ပဏာမစမ်းသပ်လည်ပတ်မှု ပြုလုပ်မည့်ကာလ - (၁)နှစ်

(င) တည်ဆောက်မှုစတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိချိန်မှ စတင်ပါမည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - B.O.T စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)
(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည့်ဖြင့်ဖော်ပြရန်) တွင် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ - ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး) Plot A - ( ၄၀ ) ဧက

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - မြန်မာ့မီးရထားနှင့် B.O.T စနစ်ဖြင့် ကုန်းတွင်းဆိပ် ဝန်ဆောင်မှုလုပ်ငန်း။

(ဃ) နှစ်စဉ်စက်သုံးဆီ လိုအပ်ချက်

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ဒီဇယ် | 55,000 Gal |
| ၂။ အင်ဂျင်ဝိုင် | 22,000 Gal |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အား လိုအပ်ချက်

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ( 1 ) MVA |
| ၂။ ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ........................ |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ........................ |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | ........................ |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ........................ |

(စ) နှစ်စဉ်ရေလိုအပ်ချက် - (၂၂၈,၀၀၀) ဂါလံ
(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်) - (၁၅,၄၂၀) ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံး ပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်

(၁) အဓိကကုန်ကြမ်း - -
(၂) အထောက်အကူကုန်ကြမ်း - -

(၃) စက်သုံးဆီ/ဓာတ်ငွေ့များ

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ဒီဇယ် | 55,000 Gal |
| ၂။ အင်ဂျင်ဝိုင် | 22,000 Gal |

(ဈ) အဆောက်အအုံလိုအပ်ချက် - Annexe – (၉) တွင် ဖော်ပြထားပါသည်။

(ည) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် - မြန်မာ့မီးရထားပိုင် မြေ (၄၀)ဧက ကို B.O.T စနစ်ဖြင့် ဆောင်ရွက်ပါမည်။

(ဋ) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့် ဝန်ဆောင်မှု - Annexe – (၁၄-၁) ဖြင့် ဖော်ပြထားပါသည်။

(ဌ) ရောင်းချမည့်နည်းစနစ် - ကုန်းတွင်းဆိပ်ဝန်ဆောင်မှုလုပ်ငန်း။

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ -

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ - | နောက်ဆက်တွဲ - (၁) | |
| (ခ) | လိုအပ်မည့်နိုင်ငံခြားသုံးငွေ - | နောက်ဆက်တွဲ - (၁) | |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ - | နောက်ဆက်တွဲ - ( - ) | |
| (ဃ) | ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ - | နောက်ဆက်တွဲ - ( - ) | |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ - | နောက်ဆက်တွဲ - (၁၄-၁) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများ စာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ - နောက်ဆက်တွဲ - (၁၂-၁)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ - နောက်ဆက်တွဲ - (၁၂-၁)

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ -

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | - နောက်ဆက်တွဲ - (၁၄-၁) မှ (၁၄-၇) | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | - နောက်ဆက်တွဲ - (၁၃-၁) မှ (၁၃-၃) | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | - နောက်ဆက်တွဲ - (၁၅-၁) မှ (၁၅-၅) | |

(ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု - နောက်ဆက်တွဲ - (၂-၁) မှ (၂-၂)

(င) အရင်းကျေကာလ - နောက်ဆက်တွဲ - (၁၆-၁) မှ (၁၆-၇)

(စ) အခြားအကျိုးအမြတ်များ - နောက်ဆက်တွဲ - (၁၈)

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ - နောက်ဆက်တွဲ - (၁၂-၁)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ် စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်း မူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ

လက်မှတ်၊ ...............................

အမည်၊ ဦးမောင်ကျေး

ရာထူး၊ ဥက္ကဌ

Resources Group Logistics Co., Ltd.

(လျှောက်ထားသူ)

## RESOURCES GROUP LOGISTICS COMPANY LIMITED

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.
Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

RGLC

---

သို့

ဥက္ကဋ္ဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။ ။ RGLC / Dry Port (YGN)/ MIC–005/ 2016။

ရက်စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (    ) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့်လုပ်ငန်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ် လုပ်ငန်းကို ကျွန်တော်များ Resources Group Logistics Co., Ltd. မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသည့် ကုမ္ပဏီ ဖြစ်ပါသည်။

၂။ အဆိုပြုသည့် ကုန်းတွင်းဆိပ်လုပ်ငန်း၏ ဝန်ဆောင်မှုလုပ်ငန်းတွင် ဝန်ထမ်းများ ခန့်ထားခြင်း အတွက် ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးသွင်းရမည့် ဝင်ငွေခွန်ကို ယင်းတို့၏ လစာမှ ထုတ်နုတ်၍ ပြည်တွင်းအခွန်များဦးစီးဌာနသို့ ပေးသွင်း သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမောင်ကျေး

ဥက္ကဋ္ဌ

Resources Group Logistics Co., Ltd.

**RESOURCES GROUP LOGISTICS COMPANY LIMITED**

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.

Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။ ။ RGLC / Dry Port (YGN)/ MIC–006/ 2016။

ရက်စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (    ) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့်လုပ်ငန်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး (ရွာသာကြီး)တွင် ကုန်းတွင်းဆိပ်လုပ်ငန်းကို ကျွန်တော်များ Resources Group Logistics Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ အဆိုပြုသည့် ကုန်းတွင်းဆိပ်လုပ်ငန်းဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာမည့် အသားတင်အမြတ်မှ တစ် (၁)ရာခိုင်နှုန်းအား အောက်ပါ လူမှုရေးအကျိုးပြုလုပ်ငန်းကိစ္စရပ်များတွင် သုံးစွဲသွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(၁) ပညာရေးကဏ္ဍအတွက် လျာထားငွေ၏ ၃၀%

(၂) ကျန်းမာရေး အထောက်အပံ့ကိစ္စရပ်များအတွက် လျာထားငွေ၏ ၂၀%

(၃) လူမှုဖူလုံရေး ကိစ္စရပ်များ (မီးဘေးကာကွယ်ရေး)အတွက် လျာထားငွေ၏ ၁၀%

(၄) ဘာသာရေး လုပ်ငန်းများအတွက် လျာထားငွေ၏ ၂၀%

(၅) ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများအတွက် လျာထားငွေ၏ ၂၀%

လေးစားစွာဖြင့်

ဦးမောင်ကျေး

ဥက္ကဋ္ဌ

Resources Group Logistics Co., Ltd.

